## ဒို့တာဝန်အရေးသုံးပါး

★ ပြည်ထောင်စုမပြိုကွဲရေး ဒို့အရေး
★ တိုင်းရင်းသားစည်းလုံးညီညွတ်မှုမပြိုကွဲရေး ဒို့အရေး
★ အချုပ်အခြာအာဏာ တည်တံ့ခိုင်မြဲရေး ဒို့အရေး

## ပြည်သူ့သဘောထား

★ ပြည်ပအားကိုးပုဆိန်ရိုး အဆိုးမြင်ဝါဒီများအား ဆန့်ကျင်ကြ။
★ နိုင်ငံတော်တည်ငြိမ်အေးချမ်းရေးနှင့် နိုင်ငံတော်တိုးတက်ရေးကို နှောင့်ယှက်ဖျက်ဆီးသူများအား ဆန့်ကျင်ကြ။
★ နိုင်ငံတော်၏ပြည်တွင်းရေးကို ဝင်ရောက်စွက်ဖက်နှောင့်ယှက်သော ပြည်ပနိုင်ငံများအား ဆန့်ကျင်ကြ။
★ ပြည်တွင်းပြည်ပအဖျက်သမားများအား ဘုံရန်သူအဖြစ် သတ်မှတ်ချေမှုန်းကြ။

## နိုင်ငံရေးဦးတည်ချက် (၄) ရပ်

★ နိုင်ငံတော်တည်ငြိမ်ရေး ရပ်ရွာအေးချမ်းသာယာရေးနှင့်တရားဥပဒေစိုးမိုးရေး။
★ အမျိုးသားစည်းလုံးညီညွတ်မှု ခိုင်မာရေး။
★ စည်းကမ်းပြည့်ဝသော ဒီမိုကရေစီစနစ် ရှင်သန်ခိုင်မာအောင် တည်ဆောက်ရေး။
★ ဖွဲ့စည်းပုံ အခြေခံဥပဒေနှင့်အညီ ခေတ်မီဖွံ့ဖြိုးတိုးတက်သော နိုင်ငံတော်သစ် တည်ဆောက်ရေး။

## စီးပွားရေးဦးတည်ချက် (၄) ရပ်

★ စိုက်ပျိုးရေးကို ပိုမိုဖွံ့ဖြိုးတိုးတက်အောင် ဆောင်ရွက်ပြီး ခေတ်မီ စက်မှုနိုင်ငံ ထူထောင်ရေးနှင့် အခြားစီးပွားရေး။
★ ဈေးကွက်စီးပွားရေးစနစ် ပီပြင်စွာဖြစ်ပေါ်လာရေး။
★ ပြည်တွင်းပြည်ပမှ အတတ်ပညာများနှင့် အရင်းအနှီးများဖိတ်ခေါ်၍ စီးပွားရေး ဖွံ့ဖြိုးတိုးတက်အောင် တည်ဆောက်ရေး။
★ နိုင်ငံတော်စီးပွားရေးတစ်ရပ်လုံးကို ဖန်တီးနိုင်မှုစွမ်းအားသည် နိုင်ငံတော်နှင့် တိုင်းရင်းသား ပြည်သူတို့၏လက်ဝယ်တွင်ရှိရေး။

## လူမှုရေးဦးတည်ချက် (၄) ရပ်

★ တစ်မျိုးသားလုံး၏စိတ်ဓာတ်နှင့် အကျင့်စာရိတ္တမြင့်မားရေး။
★ အမျိုးဂုဏ်၊ ဇာတိဂုဏ်မြင့်မားရေးနှင့် ယဉ်ကျေးမှုအမွေအနှစ်များ၊ အမျိုးသားရေးလက္ခဏာများ မပျောက်ပျက်အောင် ထိန်းသိမ်းစောင့်ရှောက်ရေး။
★ စစ်မှန်သော မျိုးချစ်စိတ်ဓာတ်ဖြစ်သည့် ပြည်ထောင်စုစိတ်ဓာတ် ရှင်သန်ထက်မြက်ရေး။
★ တစ်မျိုးသားလုံး ကျန်းမာကြံ့ခိုင်ရေးနှင့် ပညာရည်မြင့်မားရေး။

# စာအုပ်စာတမ်းစာနယ်ဇင်း

ကြိုတင်ပုံနှိပ်ထုတ်ဝေခွင့်ပြုအမှတ်

၆၀၀၉၈၇၁၁၁၁

မျက်နှာဖုံးကြိုတင်ပုံနှိပ်ထုတ်ဝေခွင့်ပြုအမှတ်

၆၀၀၈၇၁၁၁၁၁

| | | |
|---|---|---|
| မျက်နှာဖုံးဒီဇိုင်း | ❖ | ဇော်မောင် |
| ပုံနှိပ်ခြင်း | ❖ | ပထမအကြိမ် |
| အုပ်ရေ | ❖ | ၅၀၀ |
| ပုံနှိပ်ပြီးသည့်လ | ❖ | ၂၀၁၁ ခုနှစ်၊ ဒီဇင်ဘာလ |
| တန်ဖိုး | ❖ | ၂၀၀၀ ကျပ် |
| မျက်နှာဖုံးနှင့် | ❖ | စာပေလောကပုံနှိပ်တိုက် |
| အတွင်းပုံနှိပ် | ❖ | ဒေါ်ခင်လှ (၀၁၅၇၈)<br>အမှတ် (၁၇၃)၊ ၃၃ လမ်း၊<br>ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။ |
| ထုတ်ဝေသူ | ❖ | ဦးကျော်ဖေယျ<br>စကားပြောနေသူများစာပေ (၀၃၈၄)<br>အမှတ် (၁၂၄)၊ အခန်း (၁၀)၊<br>ဆူးလေဘုရားလမ်း၊ ရန်ကုန်မြို့။ |

ကျော်ဖေယျ၊ ဦး ၂၉၄·၃
သောတာပန်
ဦးကျော်ဖေယျ - ရန်ကုန်
စကားပြောနေသူများစာပေ၊ ၂၀၁၁
၄၆ စာ၊ ၁၄ × ၂၁ စင်တီမီတာ
(၁) သောတာပန်

## ဦးကျော်ဓေယျ၏ ထွက်ရှိပြီး ဘာသာရေးစာအုပ်များ


၁။ ဝိပဿနာဉာဏ်ပညာ ၂၀၀၂
၃၀၉/၂၀၀၂ (၇)

၂။ ပညာဉာဏ်မျက်စိများ ၂၀၀၃
၁၁၉/၂၀၀၃ (၂)

၃။ သေသွားသည့်တိုင် ၂၀၀၄
၃၄/၂၀၀၄ (၂)

၄။ ကုသိုလ်တော်အလှူ ၂၀၀၄
၃၂၁/၂၀၀၄ (၅)

၅။ မနောမယ ၂၀၀၄
၄၁၀/၂၀၀၄ (၆)

၆။ နှလုံးသားရွှေချ ၂၀၀၄
၄၉၁/၂၀၀၄ (၇)

၇။ ဥပုသ်ကုသိုလ် ၂၀၀၄
၆၂၂/၂၀၀၄ (၉)

၈။ ဓာတာရှိုး လူထိပ်မိုး
ခြေတော်ပူဇော် ဟိုးဟိုးကျော် ၂၀၀၅
၃၂၉၉၉၂၉၅၉၁

၉။ ဓမ္မဖြင့်ဖြတ်အပ်သော သံယောဇဉ် ၂၀၀၅
၃၂၀၇၇၁၀၅၁၀

၁၀။ နိဗ္ဗာန် ၂၀၀၅
၃၂၀၇၈၆၃၀၅၁၁

၁၁။ တရားအားထုတ်ခြင်းအကြောင်း
သိကောင်းစရာ ဆွေးနွေးချက်များ ၂၀၀၅
၃၀၁၁၀၀၆၀၂

၁၂။ တရားယောင်ယောင် ဟန်ဆောင်တတ်သော
သူတော်ယောင်ယောင် တရားများ ၂၀၀၆
၃၂၀၂၁၇၀၆၀၃
၁၃။ တို့များရဲ့ နေနည်းချမ်းသာ ၂၀၀၇
၃၂၀၆၃၀၀၆၀၉
၁၄။ ကံပြင်ပညာ ၂၀၀၇
၃၂၀၄၂၁၀၇၀၇
၁၅။ ဉာဏ်တော်များ ၂၀၀၈
၃၂၀၂၂၁၀၄၀၈
၁၆။ ဗုဒ္ဓအဘိဓာန် ၂၀၀၉
၃၂၀၃၈၆၀၇၀၉
၁၇။ လူ့အသိဉာဏ်၏ အထွတ်အထိပ်ဖြစ်သော
အံရိယာသစ္စာဉာဏ်ကို အဆင့်ဆင့်
တည်ဆောက်ဝင်စံခြင်း ၂၀၀၉
၁၈။ ခရီးလမ်းမြေပုံနှင့် လောကအဆုံး
ရှိရာဆီသို့ ၂၀၁၀
၆၀၀၁၂၂၀၃၁၀
၁၉။ ဉာဏ်တော်မြတ်ပဋ္ဌာန်း ၂၀၁၁
၆၀၀၀၂၂၀၁၁၁
၂၀။ မဟာသုပိန်စာတ်တော်လာ
ကောသလမင်းကြီး၏ မဟာအိပ်မက်
(၁၆) ချက် ၂၀၁၁
၆၀၀၈၉၂၁၀၁၁
၂၁။ သောတာပန် ၂၀၁၁
၆၀၀၉၈၇၁၁၁၁

# မာတိကာ


| အခန်းစဉ် | အကြောင်းအရာ | စာမျက်နှာ |
| --- | --- | --- |
| အခန်း (၁) | ဘာဆုကိုပန်မှာလဲ ………………… | ၁ |
| အခန်း (၂) | သောတာပန်ဖြစ်လိုလျှင် ………………… | ၁၅ |
| အခန်း (၃) | သောတာပန်လမ်းစဉ် ………………… | ၃၃ |
| အခန်း (၄) | သောတာပန်အမျိုးအစားနှင့် | |
| | ဘဝအပိုင်းအခြား ………………… | ၄၃ |
| | ကိုးကားစာရင်း ………………… | ၄၆ |

# အခန်း (၁)

## ဘာဆုကို ပန်မှာလဲ

ဆရာ - ဘာဆုကို ပန်မှာလဲ။

တပည့် - သောတာပန်ဆုကို ပန်ချင်ပါတယ်။

ဆရာ - နိဗ္ဗာန်ဟာ လောကုတ္တရာလမ်းကြောင်းအရ လမ်းဆုံး ဖြစ်တယ်။ နိဗ္ဗာန်ဟာ ဘေးခပ်သိမ်း၊ ရန်ခပ်သိမ်း၊ အန္တရာယ်ခပ်သိမ်း၊ ဒုက္ခခပ်သိမ်းတို့ရဲ့ ချုပ်ငြိမ်းရာ ဖြစ်တယ်။ ဆင်းရဲကင်းရာ မဟာသန္တိသုခ ချမ်းသာစစ် ဖြစ်တယ်။

နိဗ္ဗာန်ဆုကိုမပန်ဘဲ ဘာဖြစ်လို့ သောတာပန်ဆုကို ပန်ရတာလဲ။

တပည့် - သောတာပန်ဆိုက်ရင် အပါယ်တံခါးပိတ်တယ်ဆိုလို့ သောတာပန်ဆုကို ပန်ရတာဖြစ်ပါတယ်။ နိဗ္ဗာန်ဆုကို မပန်တာကတော့ နိဗ္ဗာန်ဆုကို ပန်ချင်ပေမယ့် ကာမဂုဏ်

ကို မဖြတ်တောက်နိုင်သေးတာမို့ နိဗ္ဗာန်ဆု မပန်ရဲခြင်းဖြစ်ပါတယ်။

ဆရာ - သောတာပန်ဆိုက်ရင် အပါယ်တံခါးပိတ်တယ်ဆိုတာ အမှန်ပဲ။ နိဗ္ဗာန်အတွက် စိတ်ချရတဲ့ဘဝလို့ ဆိုရမယ်။

တပည့် - ဘာကြောင့် နိဗ္ဗာန်အတွက် စိတ်ချရတဲ့ဘဝလို့ ဆိုနိုင်တာပါလဲ။

ဆရာ - သောတာပန်ဆိုတာ သောတ + အာပန္နမှ ဆင်းသက်လာတဲ့ ပါဠိသက်စကားဖြစ်တယ်။ သောတ-ရေအလျဉ်၊ အာပန္န-ရောက်ရှိခြင်း အနက်ထွက်တယ်။ အဓိပ္ပာယ်က ရေစီးကြောင်းထဲ ရောက်ရှိသွားတယ်ဆိုတဲ့ သဘောပဲ။

ရေစီးကြောင်းဆိုတာ ပကတိရေစီးကြောင်းကို ဆိုလိုတာမဟုတ်။ နိဗ္ဗာန်ရေစီးကြောင်းကို ဆိုလိုတာဖြစ်တယ်။

နိဗ္ဗာန်သွားရာ ရေစီးကြောင်း၊ နိဗ္ဗာန်လမ်းမကြီးပေါ်ကို ရောက်ရှိသွားပြီဆိုတဲ့ အဓိပ္ပာယ်ပဲ။ နိဗ္ဗာန်ရေစီးကြောင်းကြီးထဲကို ရောက်ရှိသွားပြီဆိုရင် အပါယ်တံခါးပိတ်ပြီဖြစ်တယ်။ စိတ်ချရတဲ့ဘဝရောက်ပြီပေါ့ကွယ်။

လယ်တီဆရာတော်ဘုရားကြီးရဲ့ ဗောဓိပက္ခိယဒီပနီ ၃၂၇ (ဆဋ္ဌမူဒီပနီပေါင်းချုပ်) မှာ သောတာပန်တရားနဲ့ပတ်သက်ပြီး အခုလိုဟောကြားထားတယ်။

[အဘယ်ကြောင့် သောတာပန်ခေါ်သည်ဟူမူကား ဟိမဝန္တာမှ စီးလာကြကုန်သော မြစ်ကြီးငါးသွယ်၊ မြစ်ငယ်ငါးရာ ရေအလျဉ်တို့သည် နောက်သို့ပြန်နစ်ခြင်း မရှိကုန်မူ၍ မဟာသမုဒ္ဒရာသို့အရောက် စီးသွားကြကုန်သောကြောင့် သောတမည်ကုန်၏။

ထို့အတူ ထိုအရိယာတို့သည်လည်း ပုထုဇဉ်အဖြစ်သို့ တစ်ဖန်ပြန်ရောက်ခြင်း မရှိကြကုန်မူ၍ အနုပါဒိသေသ နိဗ္ဗာန်သို့သာ တစ်ဖြောင့်တည်း ဆန်တက်၍ သွားကြကုန်၏။ ပုထုဇဉ်တို့သည် ဘဝဂ်ဘုံမှသော်လည်း အဝီစိသို့တိုင်အောင် အောက်ဘုံသို့ တစ်ဖန် ပြန်ရောက်ကြသော်လည်း အရိယာတို့သည် မိမိတို့ ဖြစ်ရာဘုံမှ အောက်အောက်ဘုံသို့ တစ်ဖန်ပြန်ရောက်ခြင်း မရှိကြကုန်ပြီ။ အထက်အထက်ဘုံသို့ ဆန်တက်ဖို့ရာ တစ်ပေါက်တစ်လမ်းသာ ရှိကြကုန်၏။] လို့ ဆိုထားတယ်။

နိဗ္ဗာန်သို့ ရောက်ရာရောက်ကြောင်း နိဗ္ဗာန်ကို ရရာရကြောင်း အားထုတ်ရာမှာ သောတာပန်အဆင့်ဟာ အရိယာတွေထဲမှာတော့ အနိမ့်ဆုံးလို့ ဆိုနိုင်တယ်။

၁။ သောတာပန်အဆင့်

၂။ သကဒါဂါမ်အဆင့်

၃။ အနာဂါမ်အဆင့်

၄။ အရဟတ္တဖိုလ်အဆင့် .... တဖြည်းဖြည်း မြင့်တက်သွားပြီး နိဗ္ဗာန်ကို ကူးမြောက်တယ်။

တပည့် - သောတာပန်ဖြစ်ထိုက်တဲ့ အရည်အချင်းတွေကို သိချင်ပါတယ်။

ဆရာ - သောတာပန်ဖြစ်ထိုက်တဲ့ အင်္ဂါနဲ့ပတ်သက်ပြီး သုတ်ပါထေယျပါဠိတော်မှာ ပါတယ်။

စတ္တာရိသောတာပတ္တိယင်္ဂါနိ
ကတမေစတ္တာရော၊ သပ္ပုရိသသံသေဝေါ
သဒ္ဓမ္မဿဝနံ၊ ယောနိသော
မနသိကာရော၊ ဓမ္မာနုဓမ္မပဋိပတ္တိ*

သပ္ပုရိသသံသေဝ = ရုပ်နာမ်ခန္ဓာ ဓာတ်သစ္စာတို့၌ ကျွမ်းကျင်လိမ္မာသော သူတော်ကောင်းနှင့် ပေါင်းဖော်ရခြင်း တစ်ပါး၊

သဒ္ဓမ္မဿဝနံ = ရုပ်နာမ်ခန္ဓာ၊ ဓာတ်သစ္စာတို့နှင့် စပ်သော တရားစကားကို ကြားနာခြင်း၊ မှတ်သားခြင်း၊ သင်ကြားခြင်းတစ်ပါး။

ယောနိသောမနသိကာရ = ရုပ်ဓာတ်၊ နာမ်ဓာတ်၊ ခန္ဓာဓာတ် ပရမတ်တရားတို့ကို ထင်း

---

* ဒီဃနိကာယ်၊ သုတ်ပါထေယျပါဠိ သံဂီတိသုတ်၊ ၁၉၀ (ဆဋ္ဌမူ)

ခနဲ လင်းခနဲ ဉာဏ်မျက်စိထဲတွင်
ထင်လာ မြင်လာအောင် အသင့်
အတင့် နှလုံးသွင်းခြင်းတစ်ပါး။

**ဓမ္မာနုဓမ္မပဋိပတ္တိ** = မဂ်ဉာဏ်၊ ဖိုလ်ဉာဏ်၊ နိဗ္ဗာန်
ရခြင်း၏ အကြောင်းဖြစ်သော
သက္ကာယဒိဋ္ဌိကို ပယ်ရှားရခြင်း
တစ်ပါး တို့ ဖြစ်တယ်။

**"ယထာဘူတံဉာဏာယ သတ္ထာ ပရိယေသိတဗ္ဗော"**
ကောင်းသောဆရာ ဖြောင့်မတ်သောဆရာကို ရှာအပ်
ကြောင်း ဗုဒ္ဓကိုယ်တော်တိုင် (၄၄) ကြိမ် သတိပေး
တိုက်တွန်းခဲ့တယ်။

ဆရာမှန်နဲ့တွေ့ရင် သောတာပန်နိုင်မယ်၊ ဆရာမှန်နဲ့မတွေ့ရင် သောတာမပန်နိုင်ဘူးလို့ ဆိုရလိမ့်မယ်။ ဆရာမှန်ရင် အများအားဖြင့် သက်တောင့်သက်သာနဲ့ သောတာပန်ဖြစ်သွားကြတာများတယ်။ အရှိုးကြေကြေ အရေခန်းခန်း ကမ္မဋ္ဌာန်းအားထုတ်ယူရတဲ့ သောတာပန် ရယ်လို့ မရှိသလောက်ရှားတယ်။

မြတ်စွာဘုရားသခင် ကိုယ်တော်မြတ်ကြီး ဟေမဝတ သုတ် ဒေသနာကို ဟောတော်မူပြီး တရားတော်ရဲ့အဆုံးမှာ နတ်စစ်သူကြီးနှစ်ဦး (ဟေမဝတ နဲ့ သာတာဂီရိ) တို့ သောတာပန်ဖြစ်သွားကြတယ်။ ကြွင်းတဲ့ နတ်ဘီလူး တွေလည်း သရဏဂုံပဉ္စသီ တည်ကုန်ကြတယ်။

သောတာပန်တည်ရခြင်းဟာ ရှေးက ဆည်းပူးခဲ့တဲ့ ပါရမီအခံရှိခြင်း၊ တရားစစ်တရားမှန်ကို ကြားနာရခြင်းကြောင့် ဖြစ်တယ်။ နားပါးတဲ့အတွက်ကြောင့်လို့ ပြောလို့ရတယ်။ တရားစကားကို ကြားနာရကာမျှနဲ့ တရားတော်ရဲ့ အနှစ်သာရကို သိလွယ်၊ ထင်လွယ်၊ မြင်လွယ်၊ သဘောပေါက်လွယ်တာကို နားပါးတယ်လို့ ဆိုနိုင်တယ်။

ဟေမဝတနဲ့ သာတာဂီရိ နတ်မင်းကြီးတို့ဟာ သောတာပန်ဖြစ်ချင်စမ်းပါဘိဆိုပြီး ဘယ်ကမ္မဋ္ဌာန်းကိုမှ စီးဖြန်းအားထုတ်ရခြင်းမရှိပါ။ နားပါးလွန်းတာကြောင့် တရားတော်ကို ကြားနာရကာမျှနဲ့ သောတာပန်တည်ခဲ့တာဖြစ်တယ်။

နောက်ထပ် နားပါးသူကတော့ ကာဠီ အမည်ရတဲ့ အမျိုးသမီးတစ်ဦးဖြစ်တယ်။ သူဟာလည်း နတ်မင်းကြီးနှစ်ပါးထက်စောပြီး သောတာပန်ဖြစ်နှင့်သူဖြစ်တယ်။ နတ်မင်းကြီးနှစ်ပါးတို့ ပြောဆိုနေကြတဲ့ ဘုရားသခင်ရဲ့ ဂုဏ်ကျေးဇူးစကားကိုကြားပြီး သောတာပန်ဖြစ်သွားတာဖြစ်တယ်။ ဘုရားဂုဏ်မှာ အာရုံဝင်ပြီး ပီတိဖြစ်ပေါ်ရာက အဲဒီပီတိနဲ့ နီဝရဏတရားကိုခွာ၊ ဝိပဿနာ စီးဖြန်းရင်း ပြာသာဒ်တော်မှာ ရပ်နေရင်း သောတာပတ္တိဖိုလ်ကို ရောက်သွားတာဖြစ်တယ်။

အလားတူပဲ တရားသားကို နားပါးပါးနဲ့ခံယူရင်း သက်တောင့်သက်သာ တရားပေါက်သွားသူကတော့ ဝိသာခါကျောင်းအမကြီးပါပဲ။

သောတာပန်နဲ့ပတ်သက်ပြီး လယ်တီဆရာတော်ဘုရားကြီးရဲ့ အနတ္တဒီပနီ ၇၄ မှာ ဘယ်လိုဖော်ပြထားသလဲဆိုတော့ -

*နတ်တို့မှာလည်း သောတာပန်အနေနှင့် ကျွတ်သူများကြသည်။ ထို့ကြောင့် ယခုအခါ စတုမဟာရာဇ်နတ်ပြည်မှာ သောတာပန်အပြည့်၊ တာဝတိံသာ စသော အထက်နတ်ပြည်တို့မှာလည်း သောတာပန်အပြည့်၊ အထက်အထက် ဗြဟ္မာပြည်တို့မှာမူကား သောတာပန်အပြည့်၊ သကဒါဂါမ်အပြည့်၊ အနာဂါမ်အပြည့်၊ ရဟန္တာအပြည့် ရှိနေကြကုန်၏။*

*နတ်ပြည် (၆) ထပ်သည် ယခုအခါ အရိယာဘုံကြီးတွေဖြစ်၍နေ၏။ ယခုအခါ စတုမဟာရာဇ်ဘုံရှိ အရိယာတို့သည် အနှစ် ၉ သန်းမျှ စတုမဟာရာဇ်နတ်စည်းစိမ်ကို ခံစား စံစားပြီးလျှင် အထက်အထက်နတ်ပြည်၊ ဗြဟ္မာပြည်တို့သို့ ဘုံစဉ်စံ၍ သွားကြကုန်လတ္တံ့၊ အောက်သို့လည်းခွင့်မရှိကြကုန်ပြီ။ နတ်စည်းစိမ်၊ ဗြဟ္မာစည်းစိမ်တို့ကို ဘဝများစွာ၊ ကမ္ဘာများစွာ ခံစားစံစားပြီး၍ အကနိဋ္ဌဘုံသို့ ရောက်သောအခါ ပရိနိဗ္ဗာန်ပြုကြကုန်လတ္တံ့။*

*ဘုရားလက်ထက်တော်၌ ထိုဒေသနာကို ကြားနာ၍ သောတာပန်အရိယာအဖြစ်သို့ ရောက်သောနေ့မှစ၍ ကမ္မာများစွာ နတ်ချမ်းသာ၊ ဗြဟ္မာချမ်းသာတို့ကို အစဉ် ခံစား စံစားပြီးနောက် အကနိဋ္ဌာဘုံသို့ရောက်၍ ပရိနိဗ္ဗာန် စံသည့်တိုင်အောင် ထိုနတ်တို့၏ စိတ်ခန္ဓာမှာ ငါတို့ မြတ်စွာဘုရားသာသနာတော်မြတ်ကြီးသည် အစဉ်အမြဲပါ၍ နေလေတော့သည်။ ထိုနတ်တို့မှာ သာသနာပသည်ဟူ၍ မရှိပြီ။ ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါးသည် စိတ်နှလုံးမှာ၊ ဘဝတိုင်းမှာ အမြဲ ပါလာတော့သည်]* ဟူ၍ သောတာပန်ဖြစ်လေရာမှာ သာသနာပါရှိသွားကြောင်း ပြဆိုတော်မူတယ်။

လယ်တီဆရာတော်ဘုရားကြီးရဲ့ အနတ္တဒီပနီ ၇၇ မှာပဲ ပါရှိတာက

*[ထိုမှတစ်ပါး ငါတို့ ဘုရားလက်ထက်တော်၌ ရဟန်းအဖြစ်နှင့် ကျွတ်ကြသူတို့ကား အနည်းငယ်မျှသာ တည်း။ လူ့အဖြစ်မှ သောတာပန်အဖြစ်နှင့် ကျွတ်ကြသူတို့ကား သာဝတ္ထိပြည်မှာပင် ကုဋေများစွာ ရှိလေ၏။ ရာဇဂြိုဟ်ပြည်မှာပင် ကုဋေများစွာ ရှိလေ၏။ ထို့အတူ ကပိလဝတ်ပြည်၊ ဝေသာလီပြည် အစရှိသည်တို့၌လည်း ကုဋေများစွာ၊ သန်းပေါင်းများစွာ ရှိကြ၏။ မဇ္ဈိမတိုက် တစ်ပြင်လုံးသည် အရိယာဖြင့် ပြည့်သကဲ့သို့ ရှိကြ၏။ ထိုသူတို့ ယခုအခါ၌ စတုမဟာရာဇ်ပြည်မှာ အပြည့်*

*ရှိကြ၏။ တာဝတိံသာနတ်ပြည်မှာ အပြည့်ရှိကြသည်။ ယာမာစသည်တို့မှာလည်း များစွာရှိနေကြကုန်၏။*

*နတ်အဖြစ်နှင့် ကျွတ်ကြသော နတ်အရိယာတို့နှင့် ဓာတ်ပေါင်းမိကြလေ၏။ ထိုအရိယာတို့နှင့်အတူတကွ ဓာတ်ပေါင်းကြ၍ နတ်ချမ်းသာအဆင့်ဆင့်၊ ဗြဟ္မာချမ်းသာအဆင့်ဆင့် စံစား ခံစား၍ အကနိဋ္ဌတိုင်အောင် သွားကြကုန်လတ္တံ့၊ ထိုသူတို့၏ စိတ်သန္တာန်မှာလည်း ပရိနိဗ္ဗာန်စံကြသော ဘဝတိုင်အောင် ငါတို့မြတ်စွာဘုရားသာသနာတော်ကြီး အစဉ်မြဲစွာ ပါလေတော့သည်။ ထိုသူတို့မှာ သာသနာကွယ်ပြီဟူ၍ မရှိတော့ပြီ။ သာသနာပသောဘဝဟူ၍ မရှိကြပြီ။ ဤသို့ဖြစ်ခြင်းသည် အနတ္တလက္ခဏာကို ကောင်းစွာမြင်ရခြင်း၏ အကျိုးအာနိသင်ပေတည်း/* လို့ ပါရှိတယ်။

ဒါ့အပြင် သောတာပန်သွားလေရာ နိဗ္ဗာန်အမြဲပါပုံကိုလည်း ခုလိုမျိုး ဆက်လက်ဖော်ပြထားတယ်။

*[နိဗ္ဗာန်ချမ်းသာကြီးသည်လည်း စိတ်နှလုံး အမြဲပါပေတော့သည်။ သက္ကာယဒိဋ္ဌိ အစရှိသော ကိလေသာ အမိုက်အမဲကြီးတို့၏ ကင်းငြိမ်းခြင်း၊ ဒုစရိုက်အမိုက်အမဲကြီးတို့၏ ကင်းငြိမ်းခြင်း၊ အပါယ်လေးပါး၊ ကပ်သုံးပါး၊ ရပ်ပြစ်ရှစ်ပါး၊ ရန်သူမျိုးငါးပါး၊ ဝိပတ္တိတရားလေးပါးတို့၏ ကင်းငြိမ်းခြင်းကို နိဗ္ဗာန်ချမ်းသာကြီး ဆိုသတည်း။*

*ထို နိဗ္ဗာန်ချမ်းသာကြီးသည် ထိုသူတို့စိတ်သန္တာန်မှာ ဖြစ်လေရာရာဘဝတိုင်း ဘဝတိုင်း အမြဲပါရှိလေတော့ သည်။*

*ဖြစ်လေရာ ဘဝမှာ လောကီချမ်းသာကိုတစ်လှည့်၊ နိဗ္ဗာန်ချမ်းသာတစ်လှည့်စီ ခံစား စံစား၍ သွားကြရ ကုန်၏။ အဘယ်သို့လျှင် ချမ်းသာနှစ်ပါးကို တစ်လှည့်စီ ခံစား စံစားသွားကြရသနည်းဟူမူကား -*

*ယခုဘဝက အနုတ္တလက္ခဏာကောင်းစွာတင်ပြီး သောသူတို့သည် နောက်နောက်ဘဝတို့၌ လူပြည်လူရွာ ဖြစ်ကြကုန်သော်လည်း စည်းစိမ်ချမ်းသာ ကြီးကျယ်စွာ သော လောကီစည်းစိမ်ချမ်းသာကို ခံစား စံစားကြရ ကုန်၏။ မိမိတို့၏ စိတ်သန္တာန်၌ အတ္တဒိဋ္ဌိ၏ ကင်း ငြိမ်းခြင်းသည် သဥပါဒိသေသ နိဗ္ဗာန်ချမ်းသာကြီး ပေတည်း။]* လို့ ဖော်ပြထားထားတယ်။

သဥပါဒိသေသနိဗ္ဗာန်ဆိုတာ ခန္ဓာအကြွင်းရှိနေ သေးတဲ့ နိဗ္ဗာန်ကို ပြောတာဖြစ်တယ်။

တပည့် - လောကီစည်းစိမ် ကာမဂုဏ်တရားတွေကို ခံစားရင်း သောတာပန်ဖြစ်နိုင်တယ်ဆိုတာကော ဟုတ်ပါသလား။

ဆရာ - ဗုဒ္ဓဘုရားရှင်လက်ထက်တော်ကာလက ဥဂ္ဂသေနဆိုတဲ့ သူဌေးတစ်ဦး ရှိတယ်။ ဒီသူဌေးက သားမယားကို အင်မတန်ချစ်တယ်။

တစ်နေ့ ဒီသူဌေးဟာ ဘုရားရှင်ကိုယ်တော်မြတ်ထံ အခုလိုမျိုး လျှောက်ထားခဲ့ဘူးတယ်။

ရွှေဘုန်းတော်သခင် အရှင်သူမြတ်ဘုရား၊ နားနဲ့မနာ ဖဝါးနဲ့နာတော်မူပါဘုရား၊ တပည့်တော်သည် ဇနီးမယားကို လွန်စွာချစ်ခင်တော်မူပါတယ်ဘုရား၊ တပည့်တော်အနေနဲ့ အပါယ်လားမှာကိုလည်း ကြောက်တော်မူပါသည်ဘုရား၊ နိဗ္ဗာန်ကိုလည်း ရောက်လိုပါသည်ဘုရား၊ ဒါပေမယ့် ဇနီးကိုလည်း မခွဲနိုင်၊ ခြွေရံသင်းပင်းနဲ့တကွ ရွှေငွေ စသော ဥစ္စာများကိုလည်း တပည့်တော် မစွန့်နိုင်ပါဘုရား၊ တောထွက်၍ ရဟန်းလည်း ပြုနိုင်တဲ့အခြေအနေ မရှိပါဘုရား၊

လောကီစည်းစိမ်နဲ့တကွ တပည့်တော် နိဗ္ဗာန်ရောက်လိုပါသည်ဘုရား။ ဖြစ်နိုင်မယ့်နည်းလမ်းများရှိပါက ထိုနည်းလမ်းကို အမိန့်ရှိတော်မူပါဘုရားလို့ လျှောက်ထားဘူးတယ်။

ဒီအခါ မြတ်စွာဘုရားက ကာမဂုဏ်တန်းလန်းနဲ့ နိဗ္ဗာန်ဝင်နိုင်တဲ့ သောတာပန်လမ်းစဉ်ကို ညွှန်ပြဟောကြားတော်မူတယ်။

သောတာပန်အဖြစ်ကို ရောက်ရင် အပါယ်တံခါးပိတ်တယ်။ နိဗ္ဗာန်အတွက် စိတ်ချရတဲ့ဘဝကို ရောက်ရှိတယ်။ နိဗ္ဗာန်မရောက်မီအတွင်း ခုနစ်ဘဝတိုင်အောင်

မြတ်သောအမျိုးမှာပဲ ဘုံစဉ်အတိုင်း စံစား ခံစားသွားပြီးမှ နိဗ္ဗာန်ဝင်တယ်။

ဒါကြောင့် ဥဂ္ဂသေန သူဌေးလို လောကီစည်းစိမ်ကို ဘုံစဉ်စံပြီးမှ နိဗ္ဗာန်ကူးလိုသူတွေအတွက် သောတာပန်အဖြစ်ဟာ အထူးသင့်လျော်တယ်လို့ ဆိုရမယ်။

ဒါပေမယ့် သောတာပန်ဟာ ကိလေသာ ကာမဂုဏ်တန်းလန်းနဲ့ ရှိနေသေးတယ်လို့ ဆိုရမယ်။

ထင်ရှားတဲ့သာဓကကို ပြရမယ်ဆိုရင် ကျောင်းအမကြီး ဝိသာခါကို ပြရမှာဖြစ်တယ်။ (၇) နှစ်သမီးအရွယ်ထဲက သောတာပန် အရိယာဖြစ်တယ်။ ဒါပေမယ့် သားတစ်ကျိပ်၊ သမီးတစ်ကျိပ်၊ မြေးမြစ်တွေတရုန်းရုန်းနဲ့ အသက် ၁၂၀ တိုင်အောင် စည်းစိမ်ချမ်းသာနဲ့ ခံစား စံစားသွားခဲ့ရတယ်။

လူ့ဘဝက ကူးမြောက်တဲ့အခါမှာ နိမ္မာနရတိနတ်ဘုံမှာ သုနိမ္မိတ မည်တဲ့ နတ်မင်းကြီးရဲ့ နတ်မိဖုရားကြီးဖြစ်ပြီး ကြီးကျယ်တဲ့ နတ်စည်းစိမ်၊ နတ်ချမ်းသာကို ခံစား စံစားရတယ်။

အလားတူပဲ သိကြားမင်းဟာလည်း သက္ကပဉှာသုတ် ဒေသနာတော်ကို ကြားနာရပြီးတဲ့အဆုံးမှာ သောတာပန် အရိယာပုဂ္ဂိုလ်ကြီး ဖြစ်သွားတယ်။

ဒါပေမယ့် ကာမဂုဏ်တန်းလန်းနဲ့ ရှိသေးတာမို့ ဒေဝစ္ဆရာ နတ်ကညာတွေနဲ့ နတ်မိဖုရားတွေ ခြံရံလျက်ပင် ရှိတယ်။

တပည့် - သောတာပန်ဖြစ်ဖို့ ဘာကိုလုပ်ရမှာပါလဲ။

ဆရာ - သက္ကာယဒိဋ္ဌိနဲ့ ဝိစိကိစ္ဆာပြုတ်ဖို့ပါပဲ။

တပည့် - သက္ကာယဒိဋ္ဌိနဲ့ ဝိစိကိစ္ဆာပြုတ်ရင် သောတာပန်ဖြစ်ပြီ ဆိုတဲ့ သဘောပါလား။

ဆရာ - ဟုတ်တယ်။

# အခန်း (၂)

## သောတာပန်ဖြစ်လိုလျှင်

တပည့် - သက္ကာယဒိဋ္ဌိနဲ့ ဝိစိကိစ္ဆာပြုတ်အောင် ဘယ်လိုလုပ်ရမယ်ဆိုတာ သိချင်ပါတယ်။

ဆရာ - လူအတော်များများ ဖြစ်နေကြတာက သူတို့ မသိနားမလည်တာထက် မဟုတ်တမ်းတရမ်းတွေကို အများကြီးသိနေ လက်ခံနေကြတဲ့အချက်ပဲ။

မှားယွင်းတဲ့အယူအဆကို စွဲစွဲမြဲမြဲကြီး လက်ခံထားရင်၊ ကျေကျေနပ်နပ်ကြီး လက်ခံထားရင် မိစ္ဆာဒိဋ္ဌိဖြစ်တယ်။

ဒါကြောင့် ရှင်းအောင် နဂိုငါနဲ့ အပိုငါကို ပထမဦးဆုံး ခွဲခြားသိဖို့လိုတယ်။ ပြီးတော့ အပိုငါတွေကို ဖယ်ထုတ်ပစ်ရတယ်။

လူအတော်များများဟာ အပိုင်ါတွေနဲ့ နေကြထိုင်ကြတာများတယ်။ အပိုလုပ်လို့ အလုပ်ပိုလာတယ်။

အပိုင်ါတွေကိုပဲ အဟုတ်ကြီးထင်ကြတယ်။

တပည့် - အပိုင်ါတို့ နဂိုင်ါတို့ဆိုတာ ဘာကိုပြောတာပါလဲ။

ဆရာ - ဥပါဒါန်လေးပါးရှိတယ်။ ဥပါဒါန်ဆိုတာ အချုတ်ရတော်တော်ခက်တယ်။ ဥပါဒါန်နဲ့ တဏှာ ဘာကွာခြားသလဲမေးရင် တဏှာဆိုတာက တပ်မက်တာကို ပြောတာဖြစ်တယ်။ မရရအောင် ယူတတ်တဲ့သဘောရှိတယ်။ ဥပါဒါန်ကတော့ ရထားပြီးဖြစ်တဲ့ဥစ္စာကို လက်က မလွှတ်ချင်ဘဲ မြဲအောင်ဆုပ်ကိုင်ထားတဲ့ သဘောရှိတယ်။

မလွှတ်နိုင်အောင် စွဲယူနေတဲ့ အယူအစွဲကို ပြောတာဖြစ်တယ်။

သက္ကာယဒိဋ္ဌိနဲ့ ဝိစိကိစ္ဆာပြုတ်အောင် မှန်ကန်တဲ့ အယူအဆကို ဖော်ထုတ်ဖို့နဲ့ တွေဝေတဲ့သဘောကို ဖယ်ရှားဖို့ပဲ။

မှန်ကန်တဲ့အယူအဆ ဖော်ထုတ်ဖို့ဆိုရင် ဥပါဒါန် (၄)ပါးကို သိဖို့လိုတယ်။

၁။ (ကာမုပါဒါန်) ကာမဂုဏ်မှာစွဲလန်းတာ၊

၂။ (ဒိဋ္ဌုပါဒါန်) ဖောက်ပြန်တဲ့အယူမှာ စွဲလန်းတာ၊

၃။ (သီလဗ္ဗတုပါဒါန်) ခေလှေ့သီလ အလေ့အကျင့်မှာ စွဲလန်းတာ၊

၄။ (အတ္တဝါဒုပါဒါန်) ငါ၏ကိုယ်လို့ ထင်မှတ်စွဲလန်းတာတို့ ဖြစ်တယ်။

အဲဒီ ဥပါဒါန် (၄)ပါးအနက် (ဒိဋ္ဌုပါဒါန်) ဖောက်ပြန်တဲ့အယူအဆမှာ စွဲလန်းနေတာနဲ့ (သီလဗ္ဗတုပါဒါန်) ခေလှေ့သီလ အလေ့အကျင့်မှာ စွဲလန်းနေတာတွေကို ရှေးဦးဖယ်ရှားပစ်ဖို့ပဲ။

ကိုယ်နားမလည် လက်လှမ်းမမီတဲ့အရာတွေကို ကြောက်ရွံ့တာကတော့ ခမ္မတာပဲ။ ရေကြီးတဲ့အခါ ရေနတ်မင်းကို ပူဇော်တယ်။ လေပြင်းတိုက်တဲ့အခါ လေနတ်မင်းကို ပူဇော်တယ်။ မီးတောင်ပေါက်တဲ့အခါ၊ မြေငလျင်လှုပ်တဲ့အခါ၊ မုန်တိုင်းကျတဲ့အခါ သဘာဝတရားက ကိုယ့်ကိုဒဏ်ခတ်တယ်လို့ လက်ခံထားခဲ့ကြတယ်။

အကြောက်အမျှော်တရားတွေ လွှမ်းသော်တာကြောင့် တောကိုလည်း ရှိခိုးတယ်။ တောင်ကိုလည်း ရှိခိုးတယ်။ နေကိုလည်း ကန်တော့ခဲ့ကြတယ်။ လကိုလည်း ကန်တော့ခဲ့ကြတယ်။ သစ်ပင်ကိုလည်း ဦးချခဲ့ကြတယ်။ မြစ်ပြင်ကိုလည်း ဦးချခဲ့ကြတယ်။

အချင်းချင်းလည်း နှုတ်ခမ်းပွဲခြင်း မီးမှုတ်ကြသေးတယ်။ နတ်ဆရာတွေ၊ နတ်ကတော်တွေ၊ မှော်ဘိုးတော်တွေ ခြေချင်းလိမ်ပါပဲ။

ရိုးရာကိုင်ထားတယ်၊ မြေကြမ်းတယ်၊ နတ်ကြီးတယ်၊ သောကြာစနေ မီးလိုမွေ၊ ခရေသားအဆောင်၊ အောင်ပကုလား ဆွေသားတော်ရင်း၊ ညောင်ထောက်၊ တံတားခင်း၊ ငှက်ပျောပင်ပုဆိုးဝတ် ဆိုတဲ့ကိစ္စတွေ၊ အိမ်ရှေ့ကျီးသာလို့ ဧည့်မျှော်ရတဲ့ကိစ္စတွေ၊ မတော်တဆ ဆားပန်းကန်ဖိတ်ကျတာကို နိမိတ်ညံ့တယ်ဆိုပြီး အထိတ်တလန့် ဖြစ်တာတွေနဲ့ ထီးရိုးရှည်နေခဲ့ကြတယ်။

ကံကံရဲ့အကျိုးကို ယုံကြည်ပြီဆိုရင် ကံကံရဲ့အကျိုးနဲ့ ဆန့်ကျင်တဲ့အယူတွေ၊ အစွဲအလန်းတွေကို တစ်ခါတည်း ဖယ်ရှားပစ်ရလိမ့်မယ်။

လောကမှာ ကောင်းမှုကံ မကောင်းမှုကံရှိပေမယ့် ကောင်းမှုပြုလည်း အကျိုးမရှိ၊ မကောင်းမှုပြုလည်း အပြစ်မရှိ၊ ဒါနအကျိုးခံစားရတယ်ဆိုတာ မဟုတ်၊ သေတဲ့အခါ ဘာမှမကျန်လို့ အယူရှိတဲ့ဝါဒဟာ နတ္ထိကဝါဒ ဖြစ်တယ်။

သတ္တဝါတွေ ဆင်းရဲတာ၊ ချမ်းသာတာ အကြောင်းမရှိ၊ သူ့အလိုလို ဆင်းရဲတာ၊ ချမ်းသာတာဖြစ်တယ်၊ အချိန်တန်ရင် ဖြစ်တယ်၊ အချိန်မတန်ရင် မဖြစ်ဘူးလို့ အယူရှိတဲ့ဝါဒဟာ အဟေတု (အကြောင်းမဲ့) ဝါဒ ဖြစ်တယ်။

အကုသိုလ်ကံဆိုတာ အမှန်တကယ် မရှိ၊ လူတွေရဲ့ သတ်မှတ်ချက်အရ ခေါ်ဝေါ်ခြင်းသာဖြစ်တယ်လို့ အယူ

ရှိတဲ့ဝါဒကတော့ အကိရိယာဝါဒ၊ ကံမဲ့ဝါဒ ဖြစ်တယ်။

နောက် အယူဝါဒတစ်ခု ရှိသေးတယ်။ အဲဒါက တော့ ကောင်းမှု မကောင်းမှုဆိုတာ ရှိတော့ရှိပေမယ့် လက်ရှိခံစားနေရတာ ယခုဘဝပြုလုပ်တဲ့ကံတွေကြောင့် မဟုတ်ဘူး၊ အတိတ်ဘဝက ပြုလုပ်ခဲ့တဲ့ကံတွေကြောင့် ဖြစ်ရတာ ဖြစ်တယ်၊ လက်ရှိခံစားနေရတာ ရှေးအတိတ်ကံ စီမံတဲ့အတိုင်းသာ ဖြစ်တယ်လို့ ယူဆတဲ့ဝါဒပဲ။ အဲဒီဝါဒဟာ ပုဗ္ဗေကတဟေတုဝါဒ (အတိတ်ကံဝါဒ) လို့ ခေါ်တယ်။

ဗုဒ္ဓဘာသာက အဲဒီအယူဝါဒတွေကို ဖြောင့်မှန်တဲ့ အယူအဖြစ် မမှတ်ယူဘူး၊ ဗုဒ္ဓဘာသာက အတိတ် ပစ္စုပ္ပန် နှစ်တန်သောကံသာ ကိုယ်ပိုင်ဥစ္စာဖြစ်တယ်၊ နှစ်တန်သောကံရဲ့ အမွေကို ခံယူတယ်၊ နှစ်တန်သော ကံသည်သာ အကြောင်းရင်းဖြစ်တယ်လို့ ခံယူတယ်။ ဒါကြောင်း သမ္မာဒိဋ္ဌိ မှန်ကန်တဲ့အယူအမြင် ရှင်းဖို့ အရေးကြီးတယ်။

## ကမ္မဿကတာဉာဏ်

ကမ္မဿကတာဉာဏ်ဆိုတာ ကံကံရဲ့အကျိုးကို ယုံ ကြည်တာပဲဖြစ်တယ်။ ကံသည်သာလျှင် ကိုယ်ပိုင်ဥစ္စာ ဖြစ်တယ်၊ ကိုယ်လုပ်တာ ကိုယ်နဲ့ပဲဆိုင်တယ်၊ ခံစရာရှိ ကိုယ်လုပ်တာကိုယ်ခံရမယ်၊ စံစရာရှိ ကိုယ်လုပ်တာ ကိုယ်စံရမယ်။

ကုသိုလ်ကို ကုသိုလ်မှန်း သိရမယ်၊ အကုသိုလ်ကို လည်း အကုသိုလ်မှန်း သိရမယ်။ ကုသိုလ်ဆိုတာ သုစရိုက်တရားကို ပြောတာဖြစ်ပြီး အကုသိုလ်ဆိုတာ ဒုစရိုက်တရားကို ပြောတာဖြစ်တယ်။ ကုသိုလ်မှုကို ဆောင်ပြီး အကုသိုလ်မှုကို ရှောင်ရမှာဖြစ်တယ်။

သုစရိုက်တရား (၁၀) ပါးဖြစ်တဲ့ သူ့အသက် သတ်မှုရှောင်တာ၊ သူ့ဥစ္စာခိုးမှုရှောင်တာ၊ အိမ်ရာပြစ်မှား လွန်ကျူးမှုရှောင်တာ၊ လိမ်ညာပြောမှုရှောင်တာ၊ ကုန်း တိုက်မှုရှောင်တာ၊ အယုတ်တမာ ဆဲရေးမှုရှောင်တာ၊ သိမ်ဖျင်းစကားပြောမှု ရှောင်တာ၊ မတရားကြံစည်မှု ရှောင်တာ၊ မတရားပြစ်မှားမှုရှောင်တာ၊ ကံကံရဲ့အကျိုး ကို ယုံကြည်တာတို့ပဲ ဖြစ်တယ်။

ဒုစရိုက်တရား (၁၀) ပါးကတော့ သူ့အသက် သတ်တာ၊ သူ့ဥစ္စာခိုးယူတာ၊ သူ့အိမ်ရာပြစ်မှားလွန်ကျူး တာ၊ လိမ်ညာပြောဆိုတာ၊ ကုန်းတိုက်တာ၊ အယုတ် တမာ ဆဲဆိုတာ၊ သိမ်ဖျင်းစကား ပြောဆိုတာ၊ သူ တစ်ပါးစည်းစိမ် မတရားကြံစည်တာ၊ သူတစ်ပါးကို ပျက်စီးလိုတာ၊ ကံကံရဲ့အကျိုးကို မယုံကြည်တာတို့ ဖြစ်တယ်။

ကံကံရဲ့အကျိုးကို ယုံကြည်တဲ့ လမ်းကြောင်း အတိုင်းလိုက်ရင် ကမ္မဿကတာ သမ္မာဒိဋ္ဌိ ဖြစ်တယ်။

ကမ္မဿကတာ သမ္မာဒိဋ္ဌိဖြစ်ရင် (ဒိဋ္ဌုပါဒါန်) ဖောက်ပြန်တဲ့အယူမှာ စွဲလန်းတာနဲ့ (သီလဗ္ဗတုပါဒါန်) လေ့သီလ အလေ့အကျင့်မှာ စွဲလန်းတာတွေ အလိုလို ပျောက်တယ်။

ဥပါဒါန်အစွဲလေးမျိုး၊ ကြိုးလေးကြိုးနဲ့ မိမိကိုယ် မိမိ ချည်နှောင်ထားရာက ကြိုးနှစ်ကြိုးပြည်သွားပြီ ဖြစ်လို့ တစ်စိတ်တစ်ပိုင်း လွတ်မြောက်ပြီလို့ ဆိုနိုင်တယ်။

လွတ်မြောက်မှုဟာ တန်ဖိုးထားစရာအားလုံးရဲ့ မိခင်ဖြစ်တယ်။ ကိုယ့်ကိုကိုယ်ချည်ထားတဲ့ကြိုးတွေကို ဖြေချလိုက်ရုံနဲ့ လွတ်မြောက်မှုကို ရနိုင်တယ်။

## သစ္စာနုလောမိကဉာဏ်

ဆက်လက်ပြီး ဥပါဒါန်လေးပါးအနက် (ကာမုပါဒါန်) ကာမဂုဏ်မှာ စွဲလန်းတာ၊ (အတ္တဝါဒုပါဒါန်) ငါ၏ကိုယ်လို့ ထင်မှတ်စွဲလန်းတာနဲ့ စပ်လျဉ်းပြီး အမှန်မြင် အမှန်သိဖြစ်ဖို့ ကြိုးပမ်းအားထုတ်ရတယ်။

လူဆိုတာ ရုပ်ရယ်၊ ဝေဒနာရယ်၊ အမှတ်သညာရယ်၊ ပြုပြင်စီရင်မှုရယ်၊ အသိရယ်တို့ ပါဝင်တည်ဆောက်ထားတာဖြစ်တယ်။ ဒါ့အပြင် ကမ္မဘဝ၊ ဥပပတ္တိဘဝလည်း ပါဝင်တယ်။

ကမ္မဘဝဆိုတာ အတိတ်ကုသိုလ်ကံနဲ့ အကုသိုလ်ကံတွေကို ပြောတာဖြစ်တယ်။ တစ်နည်းပြောရရင် အကြောင်းဘဝလို့ ပြောလို့ရတယ်။ အကြောင်းဘဝဟာ အတိတ်အပိုင်းကို ပြောတာဖြစ်တယ်။

ဥပပတ္တိဘဝဆိုတာ ပစ္စုပ္ပန် ခန္ဓာငါးပါးကို ပြောတာဖြစ်တယ်။ ပစ္စုပ္ပန်မှာ ဖြစ်နေ ရှိနေတဲ့ ရုပ်ရယ်၊ ဝေဒနာရယ်၊ အမှတ်သညာရယ်၊ ပြုပြင်စီရင်မှုရယ်၊ အသိရယ်တို့ကို ပြောတာဖြစ်တယ်။

လူ့ဘဝမှာ အကြောင်းလည်း ပါဝင်သလို အကျိုးလည်း ပါဝင်တယ်။ အတိတ်အပိုင်း ပါဝင်သလို ပစ္စုပ္ပန်အပိုင်းလည်း ပါဝင်တယ်။ အကြောင်းနဲ့အကျိုး ဆက်စပ်မှု၊ အတိတ်နဲ့ ပစ္စုပ္ပန်ရဲ့ ဆက်စပ်မှု ပါဝင်တယ်။

ကမ္မဘဝဟာ ဘဝရဲ့ အခြေခံအုတ်မြစ်ဖြစ်တယ်။ ဥပပတ္တိဘဝကတော့ ဘဝရဲ့ အပေါ်ထပ်အဆောက်အအုံဖြစ်တယ်။

အခြေခံအုတ်မြစ်ရဲ့ အရှိန်အဝါဟာ အပေါ်ထပ်အဆောက်အအုံမှာ ပါဝင်သလို ကမ္မဘဝရဲ့ အရှိန်အဝါဟာ ဥပပတ္တိဘဝမှာ ပါဝင်တယ်။

အခြေခံအုတ်မြစ်ရဲ့ အရှိန်အဝါ ပြိုကွဲရင် အပေါ်ထပ်အဆောက်အဦလည်း ပြိုကွဲခြင်းကိုရောက်တယ်။ အလားတူ အပေါ်ထပ်အဆောက်အဦအရှိန်အဝါ ပြိုကွဲ

တဲ့အခါ အခြေခံအုတ်မြစ်လည်း ပြိုကွဲခြင်းကို ရောက်တယ်။

ဒါကြောင့် ကမ္မဘဝ၊ ဥပပတ္တိဘဝ နှစ်ခုရဲ့ ဆက်စပ်မှုကို ဘဝလို့ဆိုတယ်။ ဘဝမှန်သမျှ ကမ္မဘဝ၊ ဥပပတ္တိဘဝ မပါမဖြစ် ပါကြတယ်။

ဘဝဟာ ဒီလိုဖွဲ့စည်းတည်ဆောက်ထားတာလို့ မြင်ရင် သမ္မာဒိဋ္ဌိဖြစ်တယ်။

လူဆိုတာ ရုပ်ရယ်၊ ဝေဒနာခံစားမှုရယ်၊ အမှတ်သညာရယ်၊ ပြုပြင်စီရင်မှုရယ်၊ အသိရယ်တို့ ပါဝင်တည်ဆောက်ထားပြီး ဆိုင်ရာအကြောင်းတွေကြောင့် ဖြစ်နေတာကို မြင်ရင်လည်း သမ္မာဒိဋ္ဌိဖြစ်တယ်။

လောကမှာရှိတဲ့ သင်္ခါရတရားတွေဟာ ဘယ်ဟာမှ မမြဲဘူးလို့မြင်လာရင် အဲဒါ ဝိပဿနာ သမ္မာဒိဋ္ဌိဖြစ်တယ်။

ဒုက္ခမှာဖြစ်ပေါ်တဲ့ဉာဏ်၊ ဒုက္ခဖြစ်ကြောင်းမှာဖြစ်တဲ့ဉာဏ်၊ ဒုက္ခချုပ်ရာ နိဗ္ဗာန်မှာ ဖြစ်ပေါ်တဲ့ဉာဏ်၊ ဒုက္ခချုပ်ရာ နိဗ္ဗာန်သို့ရောက်ကြောင်း အကျင့်ကောင်း မဂ္ဂင်လမ်းစဉ်မှာ ဖြစ်ပေါ်တဲ့ဉာဏ် အဲဒီဉာဏ်လေးမျိုးကို သမ္မာဒိဋ္ဌိလို့ ခေါ်တယ်။

ဗုဒ္ဓဘာသာမှာ ပယ်ဖို့ထက် သိဖို့က ပိုအရေးကြီးတယ်။

ဖြစ်တုန်းက အာရုံ၊ ပျက်တော့ အနိစ္စ၊ ဖြစ်တုန်းက ဝေဒနာ၊ ပျက်တော့ အနိစ္စ၊ ဖြစ်တုန်းက သညာ၊ ပျက်တော့ အနိစ္စ၊ ဖြစ်တုန်းက သင်္ခါရ၊ ပျက်တော့ အနိစ္စ၊ ဖြစ်တုန်းက အသိ၊ ပျက်တော့ အနိစ္စ လို့ မြင်သွားရင်လည်း ဝိပဿနာ သမ္မာဒိဋ္ဌိ ဖြစ်တယ်။

အဓိက ကတော့ တဏှာနားနဲ့ နားမထောင်ဘဲ ဉာဏ်နားနဲ့ နားထောင်တတ်ဖို့ပဲ။

တဏှာနားနဲ့ နားထောင်ရင် ပဋိစ္စသမုပ္ပါဒ်စက်ဝန်းလည်နေတတ်တယ်။ ဉာဏ်နားနဲ့နားထောင်ရင် အဝိဇ္ဇာအစမပြုတော့တာမို့ ပဋိစ္စသမုပ္ပါဒ်စက်ရဟတ် ရပ်တယ်။

ကိုယ့်ကိုကိုယ်ပြန်ကြည့်တဲ့အခါ အသက်ရှူနေတာကို တွေ့ရလိမ့်မယ်။ အသက်ရှူတာဟာ နဂိုငါလား၊ အပိုငါလား အဖြေထုတ်ဖို့လိုတယ်။

ဆာလောင်လို့ အစာစားတာ နဂိုငါလား၊ အပိုငါလား၊ မဆာလောင်ဘဲနဲ့စားတာကကော နဂိုငါလား၊ အပိုငါလား၊ လိုအပ်လို့ အဝတ်အထည်ဝတ်တာ နဂိုငါလား၊ အပိုငါလား၊ ပိုးဖဲကတ္တီပါမှ ဝတ်မယ်ဆိုတာကကော နဂိုငါလား၊ အပိုငါလား အဖြေထုတ်ဖို့ပဲ။

အိုတာ၊ နာတာ၊ သေတာကကော နဂိုငါလား၊ အပိုငါလား။

အပိုငါရှိတယ်လို့ယူဆရင် သက္ကာယဒိဋ္ဌိဖြစ်တယ်။ နဂိုငါမရှိဘူးလို့ယူဆရင် ဥစ္ဆေဒဒိဋ္ဌိဖြစ်တယ်။

အနတ္တဆိုတာ ''အတ္တ'' ငါမရှိဘူးဆိုတဲ့သဘော ပဲ။ တစ်နည်းပြောရရင် အပိုင်ါမရှိဘူးဆိုတဲ့သဘောပဲ။

နဂိုငါနဲ့နေတဲ့အခါ အပိုင်ါဆိုတာ အလကားပဲ ဆိုတာ သိလာတယ်။ ဒီလိုသိလာလေလေ၊ သဘော ပေါက်လေလေ ငြိမ်းအေးမှုကို တွေ့ရလေလေပဲ။

မမြဲတဲ့သဘော အနိစ္စ၊ ဆင်းရဲခြင်းသဘော ဒုက္ခ နဲ့ ဒလစပ်ဒုက္ခပေးနေတာကို ရပ်ပစ်နိုင်စွမ်းမရှိမှု အနတ္တကို မြင်လာပြီဆိုရင် အဆင့်မြင့်တဲ့ဉာဏ် ဝိပဿနာ သမ္မာဒိဋ္ဌိဖြစ်တယ်။

ရုပ်ရယ်၊ နာမ်ရယ်ဆိုတာပဲ ရှိတယ်။ အရာရာဟာ ပြောင်းလဲနေတယ်၊ ဖောက်ပြန်နေတယ်၊ ဘာကိုမျှ အစိုးမရဘူးလို့ သိထားပြီး ပျက်စီးဆုံးရှုံးမှုဖြစ်ခဲ့ရင် အဲဒီအသိကြောင့် စိုးရိမ်ပူပန်ခြင်းမရှိ၊ တွယ်တာမက် မောခြင်းမရှိ၊ တုန်လှုပ်ခြင်းမရှိ ဖြစ်ပြီဆိုရင် ဝိပဿနာ သမ္မာဒိဋ္ဌိ ဖြစ်ပြီလို့ ဆိုနိုင်တယ်။

ရှိတာက အနိစ္စ။ သိတာက မဂ္ဂ။ အဲဒီဉာဏ်နားရဖို့ အရေးကြီးတယ်။

အနိစ္စ၊ ဒုက္ခ၊ အနတ္တ တစ်ခုခုကိုမြင်ပြီး ခန္ဓာရှုမှု ကို မုန်းလည်းမုန်း၊ ခန္ဓာရှုမှု ကုန်ဆုံးရာကို မြင်လည်း မြင်ပြီဆိုရင် အဆင့်မြင့်တဲ့ ဝိပဿနာမဂ္ဂသမ္မာဒိဋ္ဌိ ဖြစ်တယ်။ နိစ္စနိဗ္ဗာန်ကို မဂ္ဂသမ္မာဒိဋ္ဌိဉာဏ်နဲ့ လှမ်းတွေ့ ရုံနဲ့ သောတာပန်ဖြစ်တယ်။ 'ဒုက္ခသဿအန္တံကရိဿတိ'

လို့ ဘုရားက ဟောထားတယ်။ ဒုက္ခအဆုံးကို မျက်မှောက်ပြုနိုင်ရင် သောတာပန်ဖြစ်တယ်။

ဒါကြောင့် ကမ္မဿကတာဉာဏ်နဲ့ ဝိပဿနာသမ္မာဒိဋ္ဌိဉာဏ် ပေါ်ပြီ ရပြီဆိုရင် သက္ကာယဒိဋ္ဌိနဲ့ ဝိစိကိစ္ဆာပြုတ်လို့ သောတာပန်ပြီလို့ ဆိုရမယ်။ သစ္စာကိုသိရင် သစ္စာဉာဏ်ရတယ်။ ဖောက်ပြန်တာကိုသိရင် ကိစ္စဉာဏ်ရတယ်။ ဖောက်ပြန်တာတွေရဲ့အဆုံး မဖောက်ပြန်တာကိုမြင်ပြီ သိပြီဆိုရင် ကတဉာဏ်ပေါ်တယ်။

ကတဉာဏ်ဟာ သောတာပန်တည်တဲ့ ဉာဏ်ပေပဲ။

တပည့် - ပုထုဇဉ်နဲ့ သောတာပန် ဘာကွာခြားပါသလဲ။

ဆရာ - သောတာပန်ဖြစ်ပေမယ့် လောဘရှိသေးတယ်။ ဒေါသလည်း ရှိသေးတယ်။ မောဟလည်း ဖြစ်သေးတာပါပဲ။ ထိနမိဒ္ဓဆိုတဲ့ ငိုက်မျဉ်းတဲ့စိတ်တွေလည်း ဖြစ်သေးတာပါပဲ။ ကာမစ္ဆန္ဒနီဝရဏ၊ ဗျာပါဒနီဝရဏ၊ ထိနမိဒ္ဓနီဝရဏ ဆိုတာလည်း ဖြစ်သေးတာပါပဲ။ ဥဒ္ဓစ္စ ဆိုတဲ့ စိတ်ပျံ့လွင့်မှုလည်း သောတာပန်မှာ ရှိပါသေးတယ်။ ကုက္ကုစ္စ ဆိုတဲ့ဥစ္စာလည်း ရှိပါသေးတယ်။

သောတာပန်ရဲ့ ထူးခြားချက်က မှားယွင်းတဲ့အယူမရှိတော့တာပဲ။ သစ္စာလမ်းကြောင်းအမှန်ကို တန်းကနဲသိနေတယ်။ သူ့မှာ ယုံမှားသံသယ မရှိတော့ပါ။ အဲဒါဟာ သောတာပန်ရဲ့ ထူးခြားချက်ပဲ။

ဗုဒ္ဓဒေသနာတော်အရ အရာရာတိုင်းမှာ သာယာဖွယ်၊ ငြီးငွေ့ဖွယ်နဲ့ ယင်းနှစ်ခုကလွန်မြောက်ရာဆိုပြီး ရှိတယ်။

သာယာဖွယ်ရဲ့နောက်မှာ ငြီးငွေ့ဖွယ်ဆိုတာရှိတယ်ဆိုပေမယ့် တော်ရုံတန်ရုံလူတွေ မတွေ့ကြဘူး၊ လူအတော်များများဟာ ငြီးငွေ့ဖွယ်ကိုမမြင်ဘဲ သာယာဖွယ်ကို ရှာရင်းရှာရင်း ဘ၀နိဂုံးချုပ်သွားကြတာများတယ်။

တစ်ချို့ကျတော့ သာယာဖွယ်ကိုရှာရင်း ငြီးငွေ့ဖွယ်ကိုတွေ့လိုက်၊ နောက်ထပ် သာယာဖွယ်ကိုရှာလိုက် ငြီးငွေ့သွားလိုက်၊ သာယာဖွယ်ကိုထပ်ရှာလိုက်နဲ့ ဒီသံသရာက မထွက်နိုင်ဘဲ ရှိတယ်။

သာယာဖွယ်ကို အဿာဒလို့ခေါ်တယ်။ ငြီးငွေ့ဖွယ်ကိုတော့ အာဒီနဝလို့ ခေါ်တယ်။

သာယာဖွယ်၊ ငြီးငွေ့ဖွယ်တို့က လွန်မြောက်ရာကို နိဿရဏလို့ ခေါ်တယ်။

လူဟာ ဘ၀အတွက် တောင့်တခြင်းလေးမျိုးရှိတယ်။ ပထမတောင့်တချက်က အိမ်ထောင်တည်ထောင်လိုမှု "ကာမ" ဖြစ်တယ်။

ဒုတိယတောင့်တချက်က စီးပွားဥစ္စာပြည့်စုံလိုမှု "အတ္ထ" ဖြစ်တယ်။

တတိယအချက်ကတော့ တရားနဲ့အညီ ကျင့်သုံးနေထိုင်လိုမှု "ဓမ္မ" ဖြစ်တယ်။

စတုတ္ထအချက်ကတော့ လွတ်လပ်မှု "မောက္ခ" ဖြစ်တယ်။

ဓမ္မနဲ့ပတ်သက်ပြီး သာယာဖွယ်၊ ငြီးငွေ့ဖွယ်မရှိတော့ဘဲ ယင်းတို့က လွန်မြောက်တဲ့ နိဿရဏကိုရရင် သောတာပန်နိုင်မှာ သေချာတယ်။

သောတာပန်စိတ်နဲ့ပတ်သက်ပြီး (၇) မျိုးရှိတယ်လို့ ကျေးဇူးတော်ရှင် အဂ္ဂမဟာပဏ္ဍိတ မိုးကုတ်ဆရာတော်ဘုရားကြီးရဲ့ တရားတော်မှာ ပါတယ်။

၁။ ပုထုဇဉ်ဟာ ဖြစ်ကြောရှည်တတ်တယ်၊ သောတာပန်ကတော့ ဖြစ်ကြောတိုတယ်။

ပုထုဇဉ်သမား ဒေါသဖြစ်ပြီဆိုရင် ဖြစ်ကြောရှည်တတ်တယ်၊ တော်တော်နဲ့ ဒေါသမပြေနိုင်ပါ။ ပါးစပ်ကလည်း ပွစိပွစိ၊ လက်ကလည်း ပါသေးရဲ့၊ ဒေါသဖြစ်ကြောကြီး ရှည်လို့မဆုံး ရှိနေတတ်တယ်။

လောဘဖြစ်လည်း ဒီလိုပဲ။ အတောမသတ်နိုင်လောက်အောင်ကို ဖြစ်နေတတ်တယ်။ မောဟကတော့ ပိုဆိုးသေးရဲ့။ ဘယ်သူ့ကြောင့်၊ ဘယ်ဟာကြောင့်၊ ဘယ်လိုဖြစ်လို့၊ ဘယ်ဟာဖြစ်လို့၊ ဘာကိုမလုပ်မိလို့ဆိုပြီး ဒုစရိုက်တရား (၁၀)ပါးမှာ ဖော်ပြထားတဲ့ အချက်တွေကို ဝက်ဘာချဲ့ ပြုမူနေလေ့ရှိတယ်။

သောတာပန်ပုဂ္ဂိုလ်ကတော့ ဖြစ်ပြီးသွားတဲ့အပေါ်မှာ နောက်က ဉာဏ်လိုက်တယ်၊ ငါ ဒေါသဖြစ်သွား

ပါပကော၊ ငါ လောဘတက်နေပါပကော၊ ငါ တပ်မက်မှု ဖြစ်နေပါပကောလို့ ဉာဏ်အသိက ချက်ချင်းလိုက်တယ်။ ထိနမိဒ္ဓဖြစ်ရင်လည်း ဉာဏ်အသိက ချက်ချင်းလိုက်တယ်။ ဒေါသ၊ လောဘ၊ ထိနမိဒ္ဓ၊ ဥဒ္ဓစ္စ၊ ကုက္ကုစ္စ ဖြစ်တော့ဖြစ်တယ်။ မပယ်နိုင်သေးလို့ ဖြစ်တာ။ ဖြစ်ပင်ဖြစ်ငြားလည်း နောက်က ဉာဏ်က လိုက်တယ်။ နောင်ကို ဆင်ခြင်မယ်ဆိုတဲ့စိတ်နဲ့ ဖြစ်ကြောကို ဖြတ်တယ်။

ပုထုဇဉ်ကတော့ ဖြစ်ကြောရှည်မဆုံး ဖြစ်နေတတ်တယ်။

တစ်ချို့ ပုထုဇဉ်တွေ အသက်အရွယ်ရလာလို့ပဲဖြစ်ဖြစ်၊ ခါချဉ်ကောင် မာန်ကြီးပေမယ့် ခါးမသန်တော့လို့ပဲဖြစ်ဖြစ် လောဘ၊ ဒေါသ၊ မောဟတွေ ပါးသွားတတ်တယ်။ ဒီလိုပါးသွားတာဟာ သက္ကာယ ဒိဋ္ဌိနဲ့ ဝိစိကိစ္ဆာ ပြုတ်သွားလို့လို့ ပြောလို့မရပါ။ သံဝေဂရသွားတာသက်သက်ပါ။ သံဝေဂရသွားရုံနဲ့ သောတာပန် မဖြစ်ပါ။ သက္ကာယဒိဋ္ဌိနဲ့ ဝိစိကိစ္ဆာ အမှန်တကယ်ပြုတ်မှ သောတာပန်ဖြစ်တာပါ။

၂။ လောဘ၊ ဒေါသ၊ ဣဿာတွေ ဖြစ်တဲ့အခါ ဒါတွေကို ငါသိနေရုံနဲ့ မဖြစ်သေးဘူး၊ ဒါတွေ ငြိမ်းအေးအောင် လုပ်ရဦးမယ်ဆိုတဲ့စိတ် ပေါ်ပါတယ်။

စူဠသောတာပန်အဆင့်ကနေ မဟာသောတာပန်ဖြစ်အောင် အားထုတ်ချင်တဲ့စိတ် ဖြစ်တယ်။

၃။ ဘုရားသာသနာမှအပ တစ်ပါးတစ်ခြားသော သာသနာတွေမှာ သောတာပန်၊ သကဒါဂါမ်၊ အနာဂါမ် ဆိုတာ မရှိနိုင်။ ဘုရားသာသနာအတွင်းမှာသာ သောတာပန်ဆိုတာ ရှိနိုင်တယ်။ သကဒါဂါမ်ဆိုတာ ရှိနိုင်တယ်။ အနာဂါမ်ဆိုတာ ရှိနိုင်တယ်။ ရဟန္တာဆို တာ ရှိနိုင်တယ်ဆိုတာကို သိရှိသဘောပေါက်ခြင်းပဲ။

ကမ္မဿကတာဉာဏ်ဟာ သာသနာပမှာလည်း ရနိုင်တဲ့ဉာဏ်မျိုး ဖြစ်တယ်။ ဒါပေမယ့် သစ္စာနုလော မိကဉာဏ်ဖြစ်တဲ့ ဝိပဿနာ သမ္မာဒိဋ္ဌိဉာဏ်မျိုးကတော့ ဘုရားသာသနာအတွင်းမှာသာ ရနိုင်တဲ့ဉာဏ်မျိုးဆိုတာ ကို သိတယ်။

၄။ ရဟန်းတော်တွေမှာ အာပတ်သင့်တယ်ဆို တာ ရှိတယ်။ မြက်ပင်ကလေးကို မိမိပယောဂနဲ့ သွား ပြီး ဆိတ်လိုက်ရင်၊ ဓားနဲ့ခုတ်ထစ်လိုက်ရင် အာပတ် သင့်တာရှိတယ်။ ဒီလို အာပတ်သင့်တဲ့အခါ အချိန် မဆိုင်းဘဲ အာပတ်ဖြေရတယ်။ တစ်ပါးသော ပုဂ္ဂိုလ် ထံမှာ တပည့်တော် လွန်ကျူးမိပါတယ်ဘုရား၊ ဒေသနာ ကြားနာချင်ပါတယ်ဘုရား ဆိုပြီး မိမိအပြစ်ကို မိမိ ဝန်ခံ အာပတ်ဖြေရတယ်။

သောတာပန်ပုဂ္ဂိုလ်လည်း ဒီအတိုင်းပဲ။ မှားတာ လုပ်မိရင် ဝန်ချတောင်းပန်ပြီး ပြေအောင်လုပ်မယ်ဆိုတဲ့ စိတ်ရှိတယ်။ ကိုယ့်အမှားကို ချက်ချင်းပြေအောင်

လုပ်တယ်။ ကိုယ့်ရဲ့အမှားစိတ်ကို ပြေအောင် ချက်ချင်း ဆိုသလို ဘုရားစင်ရှေ့သွားပြီး ကမ္မဋ္ဌာန်းရင်လည်း ထိုင်ပြီး ပြေပျောက်အောင် လုပ်တယ်။ အကုသိုလ်ပြု မိရင် မြန်မြန် ကုသိုလ်မှုပြန်ပြုတယ်။

၅။ တစ်ပါးသူက အကူအညီတောင်းလို့ ကူညီ ဆောင်ရွက်ရာမှာ မိမိသီလပျက်၊ သမာဓိပျက်၊ ပညာ ပျက်မခံဘဲ ကူညီတယ်။ အဲဒါ သောတာပန်စိတ်ထားပဲ။

၆။ မြတ်စွာဘုရားရဲ့ တရားတော်တွေကို ဟော ကြားတဲ့အခါမှာ အာရုံကို စိုက်နှစ်ပြီး နာလေ့ရှိတယ်။ ပီတိသောမနဿ ဖြစ်တယ်။

၇။ မြတ်စွာဘုရားရဲ့ တရားတော်တွေကို ကြား နာနေတဲ့အချိန်နဲ့ ကြားနာပြီးတဲ့အချိန်တွေမှာ ပီတိ သောမနဿတွေဖြစ်ပြီး ဒီပီတိသောမနဿဟာ တော် တော်နဲ့ ပျောက်ပျက်မသွားဘဲ ဝမ်းမြောက်ဝမ်းသာ အချိန်ကြာကြာ ဖြစ်နေလေ့ရှိတယ်။ အဖန်ဖန် နှလုံးသွင်း တယ်။ ဝမ်းမြောက်မဆုံး၊ ကြည်ညိုမဆုံး၊ ကျေးဇူးတင် မဆုံး ရှိတယ်။

ဖော်ပြပါ အချက်တွေဟာ သောတာပန်ရဲ့ စိတ် ထားတွေပဲ။

# အခန်း (၃)

## သောတာပန်လမ်းစဉ်

တပည့် - သောတာပန်လမ်းစဉ်ကို သိချင်ပါတယ်။

ဆရာ - ဆရာ ဒဂုံဦးစန်းငွေရေးတဲ့ သောတာပန်နှင့် ယထာဘူတ ဆိုတဲ့ စာအုပ်မှာ သောတာပန်ဖြစ်လမ်းစဉ်ကို အခုလို မျိုး ဖော်ပြပေးထားတယ်။

*[မှန်ကြေးမုံပြင်ကဲ့သို့ ပကတိအားဖြင့် ကြည်လင်နေသော စိတ်အစဉ်ကို အမည်းစက်စွန်းထင်း ညစ်ထပ်သွားအောင် ပြုတတ်သောတရား၊ အသည်းနှလုံး၌ မီးဟုန်းဟုန်းတောက်ပြီး တစ်ကိုယ်လုံး ပူလောင်၍ အပူကောင်ကြီးဖြစ်အောင် မီးမြိုက်တတ်သောတရားကို "ကိလေသာ" ဟု ဆိုပေသည်။*

ထိုကိလေသာကား အရေအတွက်အားဖြင့် ၁၅၀၀ ရှိသတည်း။ ယင်း ၁၅၀၀ ကိလေသာအားလုံးခန်းလျှင် ရဟန္တာဖြစ်၏။ သောတာပန်မှာ ကိလေသာအားလုံးကို ပယ်နိုင်သေးသူမဟုတ်။ ကိလေသာ ၁၅၀၀ အနက်မှ ၁၄၉၉ မျိုးသော ကိလေသာများကို ချန်လှပ်၍ ဒိဋ္ဌိ ဝိစိကိစ္ဆာ တစ်လုံးကိုသာ ပယ်သတ်နိုင်သေးသည်။ ဤဒိဋ္ဌိဝိစိကိစ္ဆာ တစ်လုံးကို အသေသတ်နိုင်လျှင် ကိစ္စပြတ်၏။ အရိယာဇာတ် သောတာပန်ဖြစ်လေ၏။

သောတာပန်ဖြစ်မှု၌ စာတတ်ခြင်း မတတ်ခြင်းနှင့် မဆိုင်။ သောတာပန်သည် စာတတ်သူအတွက် မဟုတ်။ အသိပေါက်သူအတွက်ဖြစ်၏။ စာတတ်လျက် သောတာမပန်သူတွေ အများကြီးရှိ၏။ တရားကို များများကြီးသိမှုမဟုတ်။ တရားသဘောကို အချက်မိမိ တစ်ကွက်လောက်မျှသိလျှင် သောတာပတ္တိအဖြစ်သို့ ရောက်နိုင်၏။ သိမှုသည်သာ အချုပ်အချာဖြစ်၏။ အသိထက်လျှင် လက်ခနဲ လင်းနိုင်သတည်း။

သိမှုဆိုရာ၌ -

၁။ ဆရာသိ

၂။ စာသိ

၃။ နှလုံးသိ .... အသိသုံးမျိုးရှိသည့်အနက် "သည်ဟာက ပရမတ်၊ သည်ဟာကို ပညတ်ဟုမှတ်"

ဤသို့ ဆရာက မှတ်ခိုင်း၊ သိခိုင်း၍ သိသောအသိမျိုးသည် ဆရာသိမည်၏။ အသည်းထဲမစွဲလျှင် ကြက်တူရွေး စကားသင်နည်းမျိုးသာဖြစ်၏။ ဤသို့ ဆရာသိ သိကာမျှဖြင့် သောတာမပန်နိုင်သေး။

သမထစာအုပ်တွေဖတ်၊ ဝိပဿနာစာအုပ်တွေဖတ်၍တတ်သော အသိသည် စာသိမည်၏။ အသည်းနှလုံးခိုက် စူးစူးစိုက်စိုက်မရှိ။ "သည်ဟာက သည်လိုကိုး" ဟူ၍ သိကာမျှဖြစ်လျှင် အရာမထင်နိုင်သေး။ သောတာပန်နှင့် ဝေးသေး၏။

ဆရာက ညွှန်ပြသည့်အတိုင်း စာအုပ်များက မျက်စိဖွင့်သည့်အတိုင်း သဘောပေါက်စွာ တရားစစ်ကို တစ်တစ်ခွခွ၊ တိတိကျကျ၊ ထိထိရောက်ရောက် အသိပေါက်သော အသိမျိုးသည် နှလုံးသိမည်၏။ ထိုအသိကသာ သောတာပန်ဖြစ်စေနိုင်၏။ သောတာပန်အဖြစ်သို့ ရောက်အောင် တွန်းပို့နိုင်သောအသိမျိုး ဖြစ်လေ၏။

ထို့ကြောင့် တရားရှာ ကိုယ်မှာတွေ့၏။ တစ်ခြားသွား၍ ရှာနေစရာမလို။ နှလုံးအသိဖြင့် တရားကို မိအောင် ဖမ်းယူရာ၏။ တရားသားကိုသိမှ တစ်ကယ်သိမှလည်း တစ်ကယ်အကျိုးရှိမည်ဖြစ်ပေသတည်း/ လို့ ဆိုတယ်။

သက္ကာယဒိဋ္ဌိကို ပယ်နိုင်တာ ဉာဏ်ပညာသိမှု ဖြစ်တယ်။ သိမှ ပယ်နိုင်တယ်။ သိမှုဟာ နာမ်ဓာတ် ဖြစ်တယ်။ သက္ကာယဒိဋ္ဌိဟာ ရုပ်သတ်လို့မသေ၊ နာမ် သတ်မှသေတယ်။ ရုပ်ချေလို့ မကြေ၊ နာမ်ချေမှ ကြေတယ်။ ရုပ်ဖျက်လို့ မပျက်၊ နာမ်ဖျက်မှ ပျက်တယ်။ ရုပ်ဖြိုလို့ မပြို၊ နာမ်ဖြိုမှ ပြိုတယ်။ ရုပ်လှဲလို့ မလဲ။ နာမ်လှဲမှလဲတယ်။ ဒါကြောင့် သောတာပန်ဖြစ်ချင်ရင် သိမှုသဘောပေါက်ဖို့ အရေးကြီးတယ်။

အတ္တစွဲ၊ သက္ကာယစွဲ အစွဲရှိသူတိုင်းမှာ အမြစ်ကြီး နှစ်ခုရှိတယ်။ အဝိဇ္ဇာနဲ့ တဏှာတို့ပဲ။

အဝိဇ္ဇာက အမြစ်ကြီးတစ်ခု၊ တဏှာက အမြစ်ကြီး တစ်ခု၊ ဒီနှစ်ခုအနက် ဘယ်အမြစ်ကို အရင်ပြတ်အောင် ဖြတ်မလဲ ...

တဏှာအမြစ်ပြတ်အောင် ဖြတ်ချင်ရင် သက္ကာယ ဒိဋ္ဌိကို အရင်သတ်ရတယ်။ ဘာဖြစ်လို့လဲဆိုတော့ သက္ကာယအမြစ်ပြတ်ပြီးသည့်တိုင်အောင် တဏှာက မသေနိုင်လို့ပဲ။

ဒါကြောင့် ထိုင်နေရင်း၊ သွားနေရင်း၊ စားနေရင်း၊ လျှောင်းနေရင်း တရားသားကျကျ ''ဤကိုယ်၊ ဤကာယ၊ ဤခန္ဓာကောင်ကြီးကား မက်မောစရာ တွယ်တာစရာ မရှိပါကလား'' လို့ စူးစူးစိုက်စိုက်

အသည်းနှလုံးခိုက်အောင် သဘောပေါက်မယ်ဆိုရင် သောတာမပန်နိုင်စရာ အကြောင်းမရှိပါ။

ယခုဘဝ အနုတ္တလက္ခဏာ ကောင်းစွာထင်ပြီးတဲ့သူဟာ နောက်နောက်ဘဝတွေမှာ စည်းစိမ်ချမ်းသာကို ခံစားရတယ်။ သမ္မာဒိဋ္ဌိဘဝမှာသာ ဖြစ်ကြရတယ်။

ကျေးဇူးရှင် လယ်တီဆရာတော်ဘုရားကြီးက သောမနဿုပေက္ခာဒီပနီကျမ်းမှာ ဖော်ပြထားတာကို တင်ပြပါ့မယ်။

*[ယခုအခါ၌ လူ့ပြည်မှာ ဘာဝနာမနသိကာရ၌ စူဠသောတာပန်အနေလောက် ပေါက်ရောက်အောင် အားထုတ်ကြပြီး သေလွန်သည်နောက် နတ်ပြည် (၆) ထပ်တွင် ဖြစ်လေရာနတ်ပြည်မှာ မဟာသောတာပန်အဖြစ်သို့ ရောက်ကြ၍ ဘုရားသားတော်ရင်းကြီး၊ သမီးတော်ရင်းကြီးတို့နှင့် ဘုံစဉ်စံအရိယာအဖြစ်ဖြင့် ဇာတ်ပေါင်းနိုင်ကြကုန်၏။ ယောကျ်ားဖြစ်သူ ရှင်လူအပေါင်းတို့လည်း ဗိမ္ဗိသာရမင်း၊ အနာထပိဏ်သူဌေး အစရှိကုန်သောသူတို့နှင့် ဇာတ်ပေါင်းနိုင်ကြကုန်၏။ ဒါယိကာမဖြစ်သူတို့သည် ဝိသာခါ၊ သုပ္ပိယာ အစရှိသောသူတို့နှင့် ဇာတ်ပေါင်းနိုင်ကြကုန်၏။ ဝဋ်ဆိုးကြီး ၃ ပါး၊ ဘေးဆိုးကြီး ၂ ပါးတို့မှ ကျွတ်လွတ်၍ နတ်ပြည်မှာ ရှိနှင့်ကြသော အရိယာအနန္တတို့နှင့် တစ်လုံးတစ်စိတ်*

*ထဲ ပေါင်းမိကြ၍ သံသရာ၌ ဘေးမဲ့ချမ်းသာ ဘုံစဉ်စံ အရိယာအဖြစ်သို့ ရောက်နိုင်ကြကုန်၏။]* လို့ ဖော်ပြပါရှိတယ်။

စူဠသောတာပန်ဆိုတာ သောတာပန်ငယ်၊ သောတာပန်နုကို ပြောတာဖြစ်တယ်။ ပရမတ္ထအရိယာအဆင့်ရောက်ရင်တော့ မဟာသောတာပန်ဖြစ်တယ်။

သောတာပတ္တိမဂ်ကိုမရောက်မီ အနမတဂ္ဂ အတိတ်သံသရာကာလက ဝဋ်ဆိုးကြီး (၃)ပါး ရှိနေတဲ့ ပုထုဇဉ်အဖြစ်နဲ့သာ လာခဲ့ကြရတာဖြစ်တယ်။ သောတာပတ္တိမဂ်ကို ရောက်တာနဲ့တစ်ပြိုင်တည်း ကျွတ်လွတ်ပြီး အဲဒီဝဋ်ဆိုးကြီး (၃)ပါးမှ ကင်းငြိမ်းတဲ့ အခွင့်ထူး၊ အရာထူး၊ ဌာနန္တရရာထူးကို ရောက်တယ်။

ပုထုဇဉ်ရဲ့သဘောဟာ ရံခါရံခါ ရှေ့ဘဝကိုလည်းမသိ၊ နောက်ဘဝကိုလည်းမသိ၊ မောဟထူးဖြစ်ပြီး ကိုးကွယ်ရာမမှန် ဖြစ်တတ်တယ်။

ကိုးကွယ်ရာမမှန်တဲ့အတွက် တစ်ဘဝတစ်မျိုး ကိုးကွယ်ရာ ပြောင်းလဲတတ်တယ်။ ဘုရားမဟုတ်ဘာမဟုတ်တဲ့အရာတွေကို ဘုရားပြုလုပ်ပြီး တစ်ဘဝတစ်မျိုး ကိုးကွယ်မှုမှောက်မှားနေခဲ့ကြတယ်။ ကိုးကွယ်မှု မှောက်မှားရင် ဘဝဟာလည်း မှောက်မှားစရာတွေနဲ့ချည်း ကြုံကြရမှာပဲ။

သောတာပန်ပုဂ္ဂိုလ်ကတော့ ဘုရား တရား သံဃာကိုးကွယ်ရာမပြောင်းပါ။ ဘုရားက နိယတော လို့ ဟောတော်မူတယ်။

တပည့် - သောတာပန်ဖြစ်ရခြင်းရဲ့အကျိုးကို သိချင်ပါတယ်။

ဆရာ - ဒီမေးခွန်းကို ဝိသုဒ္ဓိမဂ်ကျမ်းမှာ အရှင်မဟာဗုဒ္ဓဃောသ ဖြေဆိုတာကို ပြထားတယ်။

အဆုံးအစမထင် ကျယ်ချင်တိုင်းကျယ်လှတဲ့ ဒီ သံသရာပြင်ကြီးဟာ လေးစင်းသော သမုဒ္ဒရာကြီးနဲ့ အလားတူတယ်။ သံသရာတွင်းမှာ ဘဝအသေချို တစ်ပေပေနဲ့ ခံနေရတဲ့ ကိုယ်၏ဆင်းရဲ၊ စိတ်၏ဆင်းရဲ ခြင်းတည်းဟူသော ဆင်းရဲမျိုးစုံ အဖုံဖုံတို့ကတော့ သမုဒ္ဒရာရေတွေနဲ့ အလားတူတယ်။ သောတာပန်ပုဂ္ဂိုလ် ဟာ နေမင်းကြီးနဲ့ တူတယ်။

နေမင်းကြီးဟာ မိမိရဲ့ အပူစွမ်းပကားနဲ့ လေးစင်း သော သမုဒ္ဒရာထဲရှိ ရေတွေကို ခြောက်ခန်းစေနိုင်သလို ပဲ သောတာပန်ပုဂ္ဂိုလ်ဟာ မိမိသိမြင်ထားတဲ့ သမ္မာဒိဋ္ဌိ စွမ်းပကားနဲ့ သံသရာဝဋ်ဆင်းရဲအပေါင်းကို ခြောက် သယောင်းသွားစေနိုင်တယ်။ အဝင်အထွက် မရှိစေရ အောင် ပိတ်ဆို့ပစ်လိုက်နိုင်တယ်။ အပါယ်တံခါးတွေ ပိတ်သွားပြီဖြစ်လို့ စိတ်ချလက်ချ ပူပင်ကြောင့်ကြရ

ခြင်းမရှိ ပကတိ ချမ်းသာစွာနေရတဲ့အကျိုးကို လက်တွေ့ ခံစားရတယ်။

သဒ္ဓါ၊ သတိ၊ ဟိရီ၊ ဩတ္တပ္ပ၊ ဗဟုသစ္စ၊ ဝီရိယ၊ ပညာဆိုတဲ့ သူတော်ကောင်းဥစ္စာ ခုနစ်ပါးကို မျက်မှောက်ပြုရခြင်းအကျိုးရှိတယ်။

မိစ္ဆာဒိဋ္ဌိမဂ္ဂင်၊ မိစ္ဆာသင်္ကပ္ပမဂ္ဂင်၊ မိစ္ဆာဝါစာမဂ္ဂင်၊ မိစ္ဆာကမ္မန္တမဂ္ဂင်၊ မိစ္ဆာအာဇီဝမဂ္ဂင်၊ မိစ္ဆာဝါယာမမဂ္ဂင်၊ မိစ္ဆာသတိမဂ္ဂင်၊ မိစ္ဆာသမာဓိမဂ္ဂင် ဆိုတဲ့ လမ်းမှားလမ်းဆိုးကြီး ရှစ်မျိုးကို ပယ်ပြတ်ဖြတ်တောက်ပြီး စွန့်ပစ်လိုက်နိုင်တယ်။

သောတာပန်ပုဂ္ဂိုလ်ဟာ သောတာပန်ဖြစ်ပြီးချိန်ကစပြီး ပါဏာတိပါတ စတဲ့ မကောင်းမှုဒုစရိုက်တွေကို မပြုတော့ပါ။ အယူမှား၊ အမှတ်မှား၊ အတွေးမှား၊ အကြံမှား၊ အပြောမှား၊ အဆိုမှား၊ အပြုမှား၊ အလုပ်မှား၊ အသက်မွေးမှား၊ အားထုတ်မှား၊ သတိမှား၊ သမာဓိမှား .... ဆိုတဲ့ အမှားမျိုးတွေ မရှိတော့ပါ။ သားတွဲလဲ၊ သမီးတွဲလဲ၊ ဇနီးတွဲလဲ၊ ရွှေတွဲလဲ၊ ငွေတွဲလဲ၊ တိုက်တာနေအိမ် အဆောက်အအုံ သံယောဇဉ်အမျှင်တန်းလန်း ရှိသေးပေမယ့် ကံငါးပါးကို လုံတယ်။

ကုသိုလ်ကောင်းမှုပြုရာမှာ ဇာတိကို ခံမင်စွဲလန်းပြီး လူချမ်းသာ နတ်ချမ်းသာ ခံစားရပါလို၏လို့ ဆု

မတောင်းတော့။ ရတနာသုံးပါးမှတစ်ပါး အခြား ကိုးကွယ်ရာမရှိတော့။ သန္တိသုခ နိဗ္ဗာန်ချမ်းသာမြတ် ကိုသာ ဆုတောင်းတော့တယ်။ ဒါဟာ သောတာပန် ဖြစ်ရခြင်းရဲ့ အကျိုးပဲ။

# အခန်း (၄)

## သောတာပန်အမျိုးအစားနှင့် ဘဝအပိုင်းအခြား

**တပည့်** - သောတာပန်အမျိုးမျိုးရှိတယ်လို့ သိရပါတယ်။ ရှင်းပြပေးစေချင်ပါတယ်။

**ဆရာ** - သောတာပန် သုံးမျိုးရှိတယ်။

၁။ ကောဝိဓသောတာပန်

၂။ ကောလံကောလသောတာပန်

၃။ သတ္တက္ခတ္တုပရမသောတာပန်တို့ ဖြစ်တယ်။

၁။ **ကောဝိဓသောတာပန်** ဆိုတာ ယခုဘဝမှာပဲ သောတာပန်ဖြစ်ပြီး ယခုဘဝမှာပဲ နိဗ္ဗာန်ဝင်တဲ့ သောတာပန်ကို ပြောတာဖြစ်တယ်။

တစ်ချို့ကတော့ သောတာပန်အဖြစ်နဲ့ လူ့စည်းစိမ်ချမ်းသာကို တစ်ဘဝသတ်သတ် ကျပ်ပြည့်တင်းပြည့်ခံစား စံစားခဲ့ပြီး နောက်ဘဝကျမှ နိဗ္ဗာန်ဝင်တဲ့ သောတာပန်ကို ဧကဗီဇသောတာပန်လို့ ယူကြတယ်။ နိဗ္ဗာန်ဝင်တဲ့ နောက်ဘဝကို အရေအတွက်ထဲ မသွင်းဘဲ သောတာပန်ကို တစ်ဘဝသန့်သန့် ယူတယ်။

၂။ ကောလံကောလ သောတာပန် ဆိုတာ နှစ်ဘဝနဲ့ ဖြစ်စေ၊ သုံးလေးငါး ခြောက်ဘဝနဲ့ဖြစ်စေ နိဗ္ဗာန်ဝင်နိုင်တဲ့ သောတာပန်ကို ပြောတာဖြစ်တယ်။

ဖနီးမယား သမီးသားတွေနဲ့ စီးပွားရစ်နှောင် လူ့တို့ဘောင်မှာ သောတာပန်အဖြစ်နဲ့ လူ့စည်းစိမ်ကို နှစ်ဘဝသန့်သန့်၊ သုံးဘဝသန့်သန့်၊ လေးဘဝသန့်သန့်၊ ငါးဘဝသန့်သန့်၊ ခြောက်ဘဝသန့်သန့် ခံစား စံစားပြီးမှ နိဗ္ဗာန်ဝင်တဲ့ သောတာပန်ဖြစ်တယ်။

သောတာပန်ပုဂ္ဂိုလ်ဟာ သောတာပန်ဖြစ်တဲ့အချိန်ကစပြီး နိဗ္ဗာန်လက်မှတ်ရထားပြီးဖြစ်လို့ သောတာပန်ဘဝအပိုင်းအခြား အချိန်မရွေး ဝင်နိုင်တယ်။

သောတာပန်ဘဝ ရောက်လာတာ လမ်းနှစ်သွယ်က လာကြတာဖြစ်တယ်။

တစ်သွယ်က ရတနာသုံးပါးကို အဝေစ္စပသာဒ - လှိုက်လှိုက်လှဲလှဲ သက်ဝင်ယုံကြည်ခြင်းကြောင့်

ဖြစ်တယ်။ နောက်တစ်သွယ်ကတော့ ပရမတ်အစစ် တကယ့်ဓာတ်နှစ်ဓာတ်သားကို သဘောပေါက်ခြင်း ကြောင့် ဖြစ်တယ်။

၃။ **သတ္တက္ခတ္တုပရမသောတာပန်** ဆိုတာကတော့ သောတာပန်ဖြစ်တဲ့ဘဝကစပြီး ခုနစ်ဘဝမြောက်မှာ နိဗ္ဗာန်ဝင်တဲ့ သောတာပန်ဖြစ်တယ်။ တစ်ချို့က သောတာပန်အဖြစ်နဲ့ (၇) ဘဝသန့်သန့်နေပြီးမှ နိဗ္ဗာန် ဝင်တယ်လို့ အယူရှိတယ်။

သောတာပန်သုံးမျိုးအနက် ဘယ်သောတာပန်ပဲ ဖြစ်ဖြစ် နိဗ္ဗာန်ဝင်ချင်တဲ့ဘဝမှာ နိဗ္ဗာန်ရောက်ကြောင်း ဝိပဿနာတရားကို ပွားများအားထုတ်တယ်။ ဒီလို အားထုတ်ရာမှာ ပုဂ္ဂိုလ်ရဲ့ ပါရမီအနုအရင့်ကိုလိုက်ပြီး နိဗ္ဗာန်ကို နှေးနှေးရောက်ခြင်း၊ မြန်မြန်ရောက်ခြင်း ခြားနားသွားတယ်။ နိဗ္ဗာန်ကိုတော့ ရောက်ကြသည်ချည်း ပါပဲ။

**ကိုးကားစာရင်း**

၁။ အနုတ္တဒီပနီ
လယ်တီဆရာတော်ဘုရားကြီး

၂။ ဗောဓိပက္ခိယဒီပနီ (ဆင္ဒမူဒီပနီပေါင်းချုပ်)
လယ်တီဆရာတော်ဘုရားကြီး

၃။ သောတာပန်နှင့် ယထာဘူတ (တတိယအကြိမ်)
ဆရာကြီး ဒဂုန်ဦးစန်းငွေ
စပါယ်ဦးစာပေဖြန့်ချိရေး
၂၀၀၇၊ ဒီဇင်ဘာလ

၄။ မိုးကုတ်ဆရာတော်ဘုရားကြီး၏
- သောတာပန်အင်္ဂါ (၇)ပါး တရားတော် (၉-၉-၆၁)
- သောတာပန်တည်ခြင်းအကြောင်း တရားတော် (၂၄-၁-၅၅)
- သောတာပန်ပုဂ္ဂိုလ်၏မြင်ပုံ တရားတော် (၁၅-၁-၆၈)
- ဒိဋ္ဌိသတ်လျှင် သောတာပန်တည်ပုံတရားတော် (၁၉-၁-၆၀)
- ရှင်အာနန္ဒာ သောတာပန်တည်ပုံတရားတော် (၉-၉-၆၁)
- သောတာပန်တည်ပြီးသောပုဂ္ဂိုလ်တို့၏ အလုပ်စဉ် တရားတော် (၁၄-၃-၆၂)

၅။ ပါမောက္ခချုပ် ဆရာတော် ဘဒ္ဒန္တဒေါက်တာနန္ဒမာလာဘိဝံသ ၏ သမ္မာဒိဋ္ဌိအကြောင်း လေ့လာခြင်း တရားတော်